အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P. Livestock Company Limited မှ ဥစားကြက် မွေးမြူခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါ ရန် အတည်ပြု တင်ပြလာခြင်း ကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Myanmar C.P. Livestock Company Limited |
| | ရင်းနှီးမြှုပ်နှံသူ | - Mr. Phongtron Kavanna (Thai) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - ဥစားကြက် မွေးမြူခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်-၁၂၃ ၊ ကွင်းအမှတ် (၁၃၀၉)၊ ခရမ်းစပ်ကုန်း ကျေးရွာအုပ်စု၊ တပ်ကုန်းမြို့နယ်၊ ဥတ္တရခရိုင်၊ နေပြည်တော် |
| ၃။ | မြေပိုင်ရှင် | - ဦးအောင်ဆန်းဦး |
| | မြေအကျယ်အဝန်း | - စုစုပေါင်းမြေဧရိယာ ၅.၁၉ ဧက (၂၁၀၀၃.၂၀၃၄ စတုရန်းမီတာ) |
| | နှစ်စဉ်မြေငှားရမ်းခ | - ကျပ် ၅,၄၆၀,၀၀၀ |
| | | - (တစ်နှစ် တစ်စတုရန်းမီတာလျှင် ၂၆၀ကျပ် နှုန်း) |
| | မြေ အသုံးပြုခွင့်သက်တမ်း | - ၂၀ နှစ် |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ၂၀ နှစ် |
| ၅။ | တည်ဆောက်ရေးကာလ | - ၆လ |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - ကျပ် ၆၀၆.၁၅ သန်း(အမေရိကန်ဒေါ်လာ ၀.၄၅သန်း ) |
| | ထည့်ဝင်သည့်အမျိုးအစား | **ကျပ်/သန်း** |
| | Building & Building Improvements | ၂၂၅.၈၉ |
| | Machinery& Equipment | ၇၉.၈၀ |
| | Equipment | ၂၄၈.၇၈ |
| | Vehicles | ၃.၀၄ |
| | Utilities System | ၄၈.၆၄ |
| | **စုစုပေါင်း** | **၆၀၆.၁၅** |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀ ရာခိုင်နှုန်း |

| | | |
|---|---|---|
| ၈။ | ထုတ်လုပ်မှု နှင့်ရောင်းဈေးနှုန်း<br><br>ကြက်ဥ<br>ကြက်ကောင်ရေ | see table below |
| ၉။ | ဝန်ထမ်းခန့်ထားမှု | ပြည်တွင်း<br>ဦးရေ ၁၀<br>အနိမ့်ဆုံးလစာ ကျပ် ၁၅၀,၀၀၀<br>အမြင့်ဆုံးလစာ ကျပ် ၂,၀၀၀,၀၀၀ |
| ၁၀။ | အခြားတင်ပြချက် | -မြေပိုင်ရှင်ဦးအောင်ဆန်းဦး နှင့် Myanmar C.P. Livestock Company Limited တို့ ချုပ်ဆိုထား သော Land Lease Agreement အား တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် Myanmar C.P. Livestock Company Limited အမည်ဖြင့် ရန်ကုန်မြို့ရှိ Global Treasure Bank Ltd.၌ ၃၀-၈-၂၀၁၇ ရက်စွဲဖြင့် ကျပ် ၁,၀၁၃၉၅၆၆၀၃.၅၀ ရှိကြောင်းတင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - Myanmar C.P. Livestock Company Limited မှ ဥစား ကြက်မွေးမြူခြင်းလုပ်ငန်းအား တိုးချဲ့ဆောင်ရွက်ရန် မြန်မာ နိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ရာ ကော်မရှင်မှ အဆို ပြုချက် အသစ်တင်ပြရန် အကြောင်းကြားခဲ့ပါသည်။<br>- အဆိုပြုလုပ်ငန်းအတွက် အသုံးပြုမည့်ရင်းနှီးမြှုပ်နှံငွေကို Myanmar C.P. Livestock Company Limited ၏ တိရစ္ဆာန် အစာ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း နှင့် တိရစ္ဆာန် အစာစပ် စက်ရုံတည်ဆောက်ခြင်း၊ မျိုးကြက်မွေးမြူခြင်း၊ ကြက်ဥ ဖောက်စက်လုပ်ငန်း နှင့် မွေးဖက်မွေးမြူခြင်းလုပ်ငန်း (၂)ခုတို့ မှ ၂၀၁၆-၂၀၁၇ ဘဏ္ဍာနှစ်ရှိ မခွဲဝေရသေးသော အမြတ်ငွေ ၇၇,၇၅၃,၆၂၃,၁၂၃.၈၄ ကျပ်ကို ပြန်လည် ရင်းနှီးမြှုပ်နှံမည် ဖြစ်ပါသည်။ Myanmar C.P. Livestock Company Limited သည် ခွင့်ပြုမိန့်အမှတ် ၂၃၈ / ၁၉၉၆(၁၈-၁၂-၁၉၉၆) ဖြင့် တိရစ္ဆာန် အစာစပ် စက်ရုံတည်ဆောက်ခြင်း၊ မျိုးကြက်မွေးမြူခြင်း၊ ကြက်ဥ ဖောက်စက် လုပ်ငန်း နှင့် မွေးဖက်မွေးမြူခြင်းလုပ်ငန်းကို လည်းကောင်း၊ ခွင့်ပြုမိန့်အမှတ် ၆၇၃ / ၂၀၁၄(၆-၃-၂၀၁၄) ဖြင့် တိရစ္ဆာန်အစာ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို လည်းကောင်း လုပ်ကိုင် လျှက်ရှိပါသည်။ |

| ထုတ်လုပ်မှုအရေအတွက် | | ဈေးနှုန်း | |
|---|---|---|---|
| Egg | Kg | (Kyat /Egg) | (Kyat / Kg) |
| ၅,၇၅၀,၀၀၀ | - | ၁၀၅ | - |
| - | ၃၆၉၉၈.၄၀ | - | ၁၆၅၀ |



G:\CP Livestock\MIC\CP (Salient point).doc

| | | |
|---|---|---|
| | | - အဆိုပြုလုပ်ငန်းသည် ISIC 0146 တွင် အကျုံးဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ်- ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှု ကဏ္ဍစာရင်းတွင် ပါဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည်နေပြည်တော်တိုင်းဒေသကြီး၊ တပ်ကုန်းမြို့နယ် တွင် ဆောင်ရွက်မည် ဖြစ်၍ဇုန်(၂)တွင် ပါဝင်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ အ-၀၁၆/ ၂၀၁၈( ၀၆၅ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဇန်နဝါရီလ ၃၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရခိုင်ပြည်နယ်တွင်း ပြည်ပနိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P. Livestock Company Limited မှ ဥစားကြက် မွေးမြူခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု တင်ပြလာခြင်း ကိစ္စ**

၁။ Myanmar C.P. Livestock Company Limited မှ ရခိုင်ပြည်နယ်ပြည့် နိုင်ငံခြားသား ရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်-၁၂၃ ၊ကွင်းအမှတ် (၁၃၀၉)၊ ခရမ်းစပ်ကုန်းကျေးရွာအုပ်စု၊ တပ်ကုန်းမြို့နယ်၊ ဥတ္တရခရိုင်၊ နေပြည်တော် ရှိ မြေဧရိယာ ၅.၁၉ဧက တွင် ဥစားကြက် မွေးမြူခြင်း လုပ်ငန်းကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်သို့ အတည်ပြုချက်တင်ပြလာပါသည်။

၂။ အတည်ပြုချက်နှင့်အတူ Myanmar C.P. Livestock Company Limited နှင့် မြေပိုင်ရှင် ဦးအောင်ဆန်းဦးတို့ချုပ်ဆိုထားသော စာချုပ်(မူကြမ်း) မြေဆိုင်ရာ အထောက်အထားများ၊ အဆောက်အဦ ဓာတ်ပုံများ၊ ထုတ်လုပ်မှုပစ္စည်း နမူနာဓာတ်ပုံများအား ပူးတွဲ တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၂၀ နှစ် ငှားရမ်းမည်ဖြစ်ပြီး နောက်ထပ်၁၀ နှစ် ၂ ကြိမ် သက်တမ်းတိုးမည်ဖြစ်ပါသည်။ စုစုပေါင်းမြေ ၅.၁၉ ဧက (၂၁၀၀၃.၂၀၃၄ စတုရန်းမီတာ) အား ငှားရမ်း၍ နှစ်စဉ်မြေငှားရမ်းခမှာ ကျပ် ၅,၄၆၀,၀၀၀ ဖြစ်ပြီး တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၂၆၀ နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၂၀နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၆ လ ကြာမြင့်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ်သန်း ၆၀၆.၁၅ ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | ကျပ်/သန်း |
|---|---|
| Building & Building Improvements | ၂၂၅.၈၉ |
| Machinery& Equipment | ၇၉.၈၀ |
| Equipment | ၂၄၈.၇၈ |
| Vehicles | ၃.၀၄ |
| Utilities System | ၄၈.၆၄ |
| **စုစုပေါင်း** | **၆၀၆.၁၅** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၁၀ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂,၀၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်တွင်း၌ ရောင်းချမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| ထုတ်လုပ်မည့်ပစ္စည်း အမျိုးအမည် | အရေအတွက် | ရောင်းချမည့် ဈေးနှုန်း |
|---|---|---|
| ကြက်ဥ | ၅,၇၅၀,၀၀၀ (eggs) | ၁၀၅ (kyat /egg) |
| ကြက်ကောင်ရေ | ၃၆၉၉၈.၄၀ (kg) | ၁၆၅၀ (kyat /kg) |

၈။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း သဘောထားပြန်ကြား ခဲ့ပါသည်-

(က) **နေပြည်တော်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ အဆိုပါရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ဆောင်ရွက်မှု အား ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ (က)**

(ခ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန**မှ ကနဦးပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Initial Environmental Exmination-IEE) ဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားပြန်ကြားထားပါ သည်။

**နောက်ဆက်တွဲ-ခ**

(ဂ) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** မှ တိရစ္ဆာန်ကျန်းမာရေး နှင့် ဖွံ့ဖြိုးရေးဥပဒေနှင့် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ချမှတ်ထားသောလုပ်ထုံး

လုပ်နည်းများအတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက အဆိုပြုလုပ်ငန်းအား ကန့်ကွက်ရန် မရှိပါကြောင်းသဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

၉။ ငွေကြေး အထောက်အထားအဖြစ် Myanmar C.P. Livestock Company Limited အမည်ဖြင့် ရန်ကုန်မြို့ရှိ Global Treasure Bank Ltd.၌ ၃၁-၈-၂၀၁၇ ရက်စွဲဖြင့် ကျပ် ၁,၀၁၃,၉၅၆,၆၀၃.၅၀ ရှိကြောင်းတင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင် ကာကွယ်ရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို လည်းတင်ပြထားပါသည်။

(ဂ) အတည်ပြုလျှောက်ထားလွှာဖြင့် တင်ပြရသည့်အကြောင်းရင်းမှာ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနမှ ကနဦးပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Initial Environmental Exmination- IEE) ဆောင်ရွက်ရန်ဖြစ်ပါသဖြင့် အတည်ပြု လျှောက်ထားလွှာဖြင့် တင်ပြခြင်းဖြစ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင်ပါဝင်ပြီး ဖွံ့ဖြိုးမှုရှိသောဒေသများဇုန်(၂)တွင် ပါဝင်ကြောင်းစိစစ်တွေ့ရှိရပါသည်။

(င) အဆိုပြုချက်စိစစ်ရေးအဖွဲ့၏၂၀၁၇ ခုနှစ် ဒီဇင်ဘာလ ၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၃၆/၂၀၁၇ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ် ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ Myanmar C.P. Livestock Company Limited မှ ဥစားကြက် မွေးမြူခြင်း လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက်တင်ပြလာခြင်း ကိစ္စနှင့် စပ်လျဉ်း၍ အတည်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

Myanmar C.P. Livestock Company Limited ၏
ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Myanmar C.P. Livestock Company Limited | (1) Mr. Nutthakrit Sivasri<br>Thai<br>PP.N0:M 915172<br>Director | 8 Soi Patthanakarn 65 Yak 2, Pravet Bangkok 10250, Thailand |
| | | (2) Mr. Siripong Aroonratana<br>Thai<br>PP.N0:L 822960<br>Managing Director | 48/46 Panyalndra P6, Panyaindra Road, Bangchan Klongsanwa, Bangkok 10510, Thailand |
| | | (3) Mr. Montri Suwanposri<br>Thai<br>PP.N0:Y 964045<br>Director | 69/57 Moo. 6 Jomthong Bangkok 10150, Thailand |
| | | (4) Mr. Phongtron Kavanna<br>Thai<br>PP.N0:W 811136<br>Director | 69/94 Moo 10 Wat Chan Muang Pitsanulok 65000, Thailand |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၅၀၉၄၂၆၅

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးကျော်မိုး

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ဥစားကြက် မွေးမြူခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - ၃၂၀ အက်ဖ်စီ/၁၉၉၆-၁၉၉၇

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - ၁၂-၂-၂၀၁၀

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - ၀၀၁၁၁၃၀၀၀၀၉၀၃

နောက်ဆက်တွဲ-က

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နေပြည်တော်ကောင်စီ

စာအမှတ်၊ ၇ / ၁ - ၁၀ ( ၀၁၇၃ ) / ဦး ၆
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီလ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၇-၁၂-၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက-၂/ အ-၀၁၆/၂၀၁၇

Myanmar C.P. Livestock Co., Ltd ၏ တပ်ကုန်းမြို့နယ်၊ ခရမ်းစပ်ကုန်းကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၃၀၉)၊ ဦးပိုင်အမှတ်-၁၂၃ ရှိ မြေဧရိယာ (၅.၁၉)ဧကပေါ်တွင် ဥစားကြက်မွေးမြူခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုနှင့်စပ်လျဉ်း၍ နေပြည်တော်ကောင်စီအနေဖြင့် သဘောထားမှတ်ချက်ကို ၂၀၁၇ ခုနှစ်၊ ဇန်နဝါရီလ (၁၄)ရက်နေ့ နောက်ဆုံးထားပြန်ကြားပေးနိုင်ပါရန်နှင့် သတ်မှတ်ကာလအတွင်း အချိန်မီမပြန်ကြားနိုင်ပါက သဘောတူညီသည်ဟုမှတ်ယူပြီး ဆက်လက်ဆောင်ရွက်မည်ဖြစ်ကြောင်း ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာမှုနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) လုပ်ငန်းဆောင်ရွက်မည့် မြေနေရာအထောက်အထားတင်ပြမှုနှင့်စပ်လျဉ်း၍ နေပြည်တော်ကောင်စီမှ အဆိုပြုမြေနေရာအား ဥစားကြက်မွေးမြူခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုထားပါကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် (၁၃/၂၀၁၇)အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍရှိ ISIC 0146 နှင့် အကျုံးဝင်သော လုပ်ငန်းအမျိုးအစားဖြစ်သည့်အပြင် ပြည်ထောင်စုနယ်မြေအတွင်း ရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်မည်ဖြစ်ခြင်းကြောင့် စီးပွားဖြစ်စတင်သည့်နေ့မှစ၍ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ်ခံစားရရှိနိုင်သည့် လုပ်ငန်းအမျိုးအစားဖြစ်ကြောင်း၊

(ဂ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ (၁၅/၂၀၁၇)အရ အဆိုပြုလုပ်ငန်းသည် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ အတည်ပြုချက်ရယူဆောင်ရွက်ရမည့် လုပ်ငန်းအမျိုးအစားတွင် ပါဝင်သောကြောင့် ကုမ္ပဏီအနေဖြင့် လုပ်ငန်းများဆောင်ရွက်ရာတွင် သက်ဆိုင်ရာဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန်လိုအပ်ကြောင်း၊

(ဃ) ဥစားကြက်မွေးမြူခြင်းလုပ်ငန်းသည် နိုင်ငံတော်၏ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍသတ်မှတ်ချက်တွင်ပါဝင်သော လုပ်ငန်းအမျိုးအစားဖြစ်ခြင်းကြောင့် အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်အပေါ် သီးခြားကန့်ကွက်ရန် မရှိသော်လည်း ကုမ္ပဏီအနေဖြင့် လုပ်ငန်းများဆောင်ရွက်ရာတွင် သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနတို့မှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများအပြင် နိုင်ငံတော်၏ တည်ဆဲဥပဒများအား လိုက်နာဆောင်ရွက်ရန်လိုအပ်ကြောင်း၊

(င) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက ကုမ္ပဏီအနေဖြင့် ပြည်ထောင်စုနယ်မြေအတွင်း လုပ်ငန်းဆောင်ရွက်မှုအခြေအနေများကို နေပြည်တော်ကောင်စီနှင့် နေပြည်တော်ကောင်စီရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြဆောင်ရွက်ရန် လိုအပ်ကြောင်း၊

ဥက္ကဋ္ဌ ( ကိုယ်စား )
( ကြည်ဝင်း၊ အတွင်းရေးမှူး )

မိတ္တူကို

ဦးတင်ထွဋ်၊ ကောင်စီဝင်၊ နေပြည်တော်ကောင်စီ
လှည့်လည်စာတွဲ
ရုံးလက်ခံ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ထွေ(၂/၂၀၁၈ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဇန်နဝါရီလ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myanmar C.P Livestock Co., Ltd. မှ ဥစားကြက်ထုတ်လုပ်ခြင်းလုပ်ငန်း အတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ သဘောထားမှတ်ချက် ပြင်ဆင်ပေးနိုင်ပါရန် တင်ပြလာခြင်းအပေါ် အကြောင်းပြန်ကြားခြင်း၊**

ရည် ညွှန်း ချက်။ (၁) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ (၂၃-၁-၂၀၁၈) ရက်စွဲပါစာအမှတ်၊ အီးအိုင်အေ-၁/၄(က)(၀၅၉/၂၀၁၈)

(၂) ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့၊ ရန်ကုန်မြို့၏ (၃-၁၀-၂၀၁၇) ရက်စွဲပါစာအမှတ်၊ ၀၁/MIC(OSS)/၁၅(၅/၁၇)

၁။ Myanmar C.P Livestock Co., Ltd. မှ နေပြည်တော်၊ ဥတ္တရခရိုင်၊ တပ်ကုန်းမြို့နယ်၊ ပေတောကျေးရွာတွင် ကျေးရွာရုံပုံငွေ ဖွံ့ဖြိုးရေးအသင်းထံမှ မြေငှားရမ်းပြီးဆောင်ရွက်သွားမည့် ဥစားကြက်ထုတ်လုပ်ခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ အဆိုပြုလွှာတွင် ကနဦးမွေးမြူမည့် အကောင်ရေ (၁၉၀၀၀) အစားလုပ်ငန်းအောင်မြင်မှုအပေါ်မူတည်၍ တိုးချဲ့မွေးမြူသွားမည့်အကောင်ရေ (၂၅၀၀၀+၂၅၀၀၀) ပါ Layout Plan ကို မှားယွင်း ဖော်ပြမိသည့်အတွက် ကနဦးမွေးမြူမည့် အကောင်ရေ (၁၉၀၀၀) ခန့်နှင့် ညီမျှသည့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီအစဉ်သို့ ပြောင်းလဲနိုင်ပါက ပြောင်းလဲခွင့်ပြုနိုင်ပါရန် ကုမ္ပဏီမှ တင်ပြလျှောက်ထားခြင်းအပေါ် ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ရန်ကုန်မြို့မှရည်ညွှန်း (၂) ပါစာဖြင့် (၄-၁၀-၂၀၁၇) ရက်နေ့တွင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ ယခုအခါတွင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ အဆိုပါတင်ပြခဲ့သောစာနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း နောက်ဆက်တွဲ (က)၊ အမှတ်စဉ်- ၃၂ အရ ကနဦးမွေးမြူမည့်အကောင်ရေ (၁၉၀၀၀) ခန့်နှင့်ညီမျှသည် ကနဦးပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆောင်ရွက်ရန် ပြောင်းလဲခွင့်ပြုပါကြောင်း ရည်ညွှန်း (၁) ပါစာဖြင့် အကြောင်းပြန်ကြားလာခဲ့ပါသည်။

၃။ သို့ဖြစ်ပါ၍ Myanmar C.P Livestock Co., Ltd. မှ အကောင်အထည်ဖော်ဆောင်ရွက်သွားမည့် အကောင်ရေ (၁၉၀၀၀) ခန့်ရှိ ဥစားကြက်ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် ကနဦးပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ကိုဆောင်ရွက်ပြီး Envionmental Management Plan-EMP) ကို ရေးဆွဲဆောင်ရွက်ရန် ပြောင်းလဲခွင့်ပြုပါကြောင်း သိရှိနိုင်ပါရန်နှင့် လိုအပ်သလို ပြင်ဆင်ဆောင် ရွက်နိုင်ပါရန် သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၂၉/၁/၁၈

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
# ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး(၀၂၇ . /၂၀၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီလ ၂၅ ရက်

အကြောင်းအရာ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၇-၁၂-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၂/အ-၀၁၆/၂၀၁၇(၉၄၇)

(၂) မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ ၃-၁-၂၀၁၈ ရက်စွဲပါစာအမှတ်၊ တဆထ/ ၄/ MIC/ (၀၁၅) မကညခက - ၂၀၁၈

၁။ Myanmar CP Livestock Co.,Ltd မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုဖြင့် နေပြည်တော်၊ ဥတ္တရခရိုင်၊ တပ်ကုန်းမြို့နယ်၊ ခရမ်းစပ်ကုန်းကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၃၀၉)၊ ဦးပိုင်အမှတ်-၁၂၃ ရှိ မြေဧရိယာ (၅.၁၉) ဧကတွင် ဥစားကြက်မွေးမြူခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် တင်ပြလာမှုနှင့်ပတ်သက်၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်း(၁)ပါစာဖြင့် မေတ္တာရပ်ခံ အကြောင်းကြားလာပါသည်။

၂။ Myanmar CP Livestock Co.,Ltd သည် ၁၈-၁၂-၁၉၉၆ ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် (၂၃၈/၁၉၉၆) ဖြင့် တိရစ္ဆာန်အစာစပ်စက်ရုံ တည်ဆောက်ခြင်း၊ မျိုးကြက်မွေးမြူခြင်း၊ ကြက်ဥဖောက်စက်လုပ်ငန်းနှင့် မွေးဖက်မွေးမြူခြင်းလုပ်ငန်းကိုလည်းကောင်း၊ ၆-၃-၂၀၁၄ ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် (၆၇၃/၂၀၁၄) ဖြင့် တိရစ္ဆာန်အစာထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းကိုလည်းကောင်း လုပ်ကိုင်လျက်ရှိပြီး ယခုတိုးချဲ့ဆောင်ရွက်ရန် အဆိုပြုသည့်လုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁-၄-၂၀၁၇ ရက်စွဲပါအမိန့်ကြော်ငြာစာအမှတ် (၁၃/၂၀၁၇) အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍစာရင်းတွင် ပါဝင်ပါသည်။

၃။ အဆိုပါကုမ္ပဏီသည် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ထုတ်ပြန်ထားသည့် ဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမိန့်ညွှန်ကြားချက်များ၊ သတ်မှတ်ထားသည့် မွေးမြူရေးလုပ်ငန်းကျင့်စဉ် (GAHP) နှင့်အညီ ဥစားကြက်မွေးမြူခြင်းလုပ်ငန်းကို ဆောင်ရွက်ပြီး ထုတ်ကုန်များကို ပြည်တွင်းဈေးကွက်သို့ ဖြန့်ဖြူးခြင်းလုပ်ဆောင်မည်ဆိုပါက ပြည်တွင်း ကြက်၊ ကြက်သားလိုအပ်မှုကို အတိုင်းအတာတစ်ခုအထိ ဖြည့်ဆည်းနိုင်သော လုပ်ငန်းတစ်ခုဖြစ်ပါကြောင်း မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ရည်ညွှန်း(၂)ပါစာဖြင့် တင်ပြလာပါသည်။

၄။ စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် Myanmar CP Livestock Co.,Ltd သည် နေပြည်တော်၊ ဥတ္တရခရိုင်၊ တပ်ကုန်းမြို့နယ်၊ ခရမ်းစပ်ကုန်းကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၃၀၉)၊ ဦးပိုင်အမှတ်-၁၂၃ ရှိ မြေဧရိယာ (၅.၁၉) ဧကတွင် ဥစားကြက်မွေးမြူခြင်း လုပ်ငန်းကို တိရစ္ဆာန်ကျန်းမာရေးနှင့်ဖွံ့ဖြိုးရေးဥပဒေ နှင့် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ချမှတ်ထားသော လုပ်ထုံးလုပ်နည်းများအတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

ဒေါက်တာခင်ဇော်၊အမြဲတမ်းအတွင်းဝန်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

(၂) ရုံးလက်ခံ

(၃) မျှော

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန**
**မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန**

စာအမှတ်၊ တဆထ/၄/ MIC/(၀၁၅) မကညကခ-၂၀၁၈
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဇန်နဝါရီလ ၅ ရက်

**ပြည်ထောင်စုဝန်ကြီး**
**စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက်အားတင်ပြခြင်း**

ရည်ညွှန်းချက်။ ပြည်ထောင်စုဝန်ကြီးရုံး၏ (၂၉-၁၂-၂၀၁၇) ရက်စွဲပါ စာအမှတ်၊၃/၂၀၀၀/ မွေးမရေကျေး (၉၇၁/၂၀၁၇)

၁။ Myanmar C.P. Livestock Company Limited မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားသားရင်းနှီးမြှုပ်နှံမှုဖြင့် နေပြည်တော်၊ ဥတ္တရခရိုင်၊ တပ်ကုန်းမြို့နယ်၊ ခရမ်းစပ်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၁၃၀၉)၊ ဦးပိုင်အမှတ်-၁၂၃ ရှိမြေဧရိယာ ၅.၁၉ ဧကတွင် ဥစားကြက်မွေးမြူခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ Myanmar C.P. Livestock Company Limited သည် ခွင့်ပြုမိန့်အမှတ် ၂၃၈/၁၉၉၆ (၁၈-၁၂-၁၉၉၆) ဖြင့် တိရစ္ဆာန်အစာစပ်စက်ရုံ တည်ဆောက်ခြင်း၊ မျိုးကြက်မွေးမြူခြင်း၊ ကြက်ဥဖောက်စက်လုပ်ငန်းနှင့် မွေးဖက်မွေးမြူခြင်းလုပ်ငန်းကို လည်းကောင်း၊ ခွင့်ပြုမိန့်အမှတ် ၆၇၃/၂၀၁၄ (၆-၃-၂၀၁၄) ဖြင့် တိရစ္ဆာန်အစာထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းကိုလည်းကောင်း လုပ်ကိုင်လျက်ရှိပြီး ယခုတိုးချဲ့ဆောင်ရွက်ရန်အဆိုပြုသည့်လုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁-၄-၂၀၁၇) ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇ အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍစာရင်းတွင် ပါဝင်ပါသည်။

၃။ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ထုတ်ပြန်ထားသည့် ဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမိန့်ညွှန်ကြားချက်များ၊ သတ်မှတ်ထားသည့် မွေးမြူရေးလုပ်ငန်းကျင့်စဉ် (GAHP) နှင့်အညီ ဥစားကြက်မွေးမြူခြင်းလုပ်ငန်းကို ဆောင်ရွက်ပြီး ထုတ်ကုန်များကို ပြည်တွင်းဈေးကွက်သို့ ဖြန့်ဖြူးခြင်းလုပ်ဆောင်မည်ဆိုပါက ပြည်တွင်းကြက်၊ ကြက်သားလိုအပ်မှုကို အတိုင်းအတာတစ်ခုအထိ ဖြည့်ဆည်းနိုင်သောလုပ်ငန်းတစ်ခုဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar C.P. Livestock Company Limited သည် ဥစားကြက်မွေးမြူခြင်းလုပ်ငန်းအား တိရစ္ဆာန်ကျန်းမာရေးနှင့်ဖွံ့ဖြိုးရေးဥပဒေနှင့် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ချမှတ်ထားသော လုပ်ထုံးလုပ်နည်းများအား လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်းနှင့် ခွင့်ပြုသင့်ကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်။

ဒေါက်တာရဲထွန်းဝင်း
ညွှန်ကြားရေးမှူးချုပ်